ပုံစံ (၅-က)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အတည်ပြုမိန့်

အတည်ပြုမိန့်အမှတ် ၁၃၀ /၂၀၁၇ ၂၀၁၇ ခုနှစ်၊ ဇူလိုင်လ ၂၄ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၂၅ ပုဒ်မခွဲ(ဃ)အရဤအတည်ပြုမိန့်ကိုထုတ်ပေးလိုက်သည် -

(၁) **ရင်းနှီးမြှုပ်နှံသူအမည်** ဒေါ်သီတာဦး

(၂) **နိုင်ငံသား** မြန်မာ

(၃) **နေရပ်လိပ်စာ** အမှတ်-၃၀၅(၇+၁ ဒီ)၊ပါရမီကွန်ဒို၊ ဦးသင်းဖေလမ်း၊ ၁၆ ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့

(၄) **ပင်မအဖွဲ့အစည်းအမည်နှင့် လိပ်စာ**-

(၅) **ဖွဲ့စည်းရာအရပ်** -

(၆) **ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား** ဖော့ရေမြှုပ်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

(၇) **ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ)** မြေကွက်အမှတ်-၅၃၊ မြေတိုင်းရပ်ကွက်အမှတ်-၂၁ မြစိမ်းရောင်စက်မှုဇုန်၊လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

(၈) **နိုင်ငံခြားမတည်ငွေရင်းပမာဏ**- -

(၉) **နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ**- –

(၁၀) **စုစုပေါင်းမတည်ငွေရင်းပမာဏ(ကျပ်)** ကျပ် ၁,၃၅၀ သန်း(အမေရိကန်ဒေါ်လာ ၁.၃၀၂ သန်းအပါအဝင်စုစုပေါင်းကျပ် တစ်ထောင့်သုံးရာငါးဆယ်သန်းခန့်)

(၁၁) **တည်ဆောက်မှု/ပြင်ဆင်မှုကာလ** ၆ လ

(၁၂) **အတည်ပြုမိန့် သက်တမ်း** ၁၀ နှစ်

(၁၃) **ရင်းနှီးမြှုပ်နှံမှုပုံစံ** မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု

(၁၄) မြန်မာနိုင်ငံတွင်ဖွဲ့စည်းမည့်ကုမ္ပဏီအမည် ရန်ကုန်စပွန့်ချ် ကုမ္ပဏီလီမိတက် (Yangon Sponge Company Limited)

24.7.17

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ် ၁၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

တယ်လီဖုန်း-၀၁-၆၅၈၀၂၈
ဖက်(စ်) -၀၁-၆၅၈၀၄၁

စာအမှတ်၊ မရက- ၃/ အ-၀၁၄ /၂၀၁၇( ၀၁၄ )
ရက်စွဲ ၊ ၂၀၁၇ ခုနှစ် ဇူလိုင်လ ၂၄ ရက်

အကြောင်းအရာ။ **ရန်ကုန်စပွန်ချ်ကုမ္ပဏီလီမိတက် (Yangon Sponge Company Limited) ၏ ဖော့ရေမြှုပ် ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအတည်ပြုမိန့် အပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ဆုံးဖြတ်ချက်**

ရည်ညွှန်းချက် ။ ရန်ကုန်စပွန်ချ်ကုမ္ပဏီလီမိတက် (Yangon Sponge Company Limited) ၏ ၂၀၁၇ ခုနှစ် ဇွန်လ ၁ ရက် နေ့စွဲပါစာ

၁။ ရန်ကုန်စပွန်ချ် ကုမ္ပဏီလီမိတက် (Yangon Sponge Company Limited) မှ မြေကွက်အမှတ်-၅၃၊ မြေတိုင်းရပ်ကွက်အမှတ်- ၂၁ မြစိမ်းရောင်စက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ ၀.၈၂၆၄ ဧကတွင် ဖော့ရေမြှုပ် ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြုချက်တင်ပြခြင်းကို ၂၀၁၇ ခုနှစ် ဇူလိုင်လ ၁၁ ရက်နေ့တွင် ကျင်းပပြုလုပ်သော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၀/၂၀၁၇) ကြိမ်မြောက် အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ၊ နည်းဥပဒေကို ကျင့်သုံးလျက် ရန်ကုန်စပွန်ချ်ကုမ္ပဏီလီမိတက် (Yangon Sponge Company Limited) အား ဖော့ရေမြှုပ်ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် အတည်ပြုမိန့်အမှတ်၊ ၀၃၀/၂၀၁၇ ကို ထုတ်ပေး လိုက်သည်။

၂။ ရန်ကုန်စပွန်ချ် ကုမ္ပဏီလီမိတက် (Yangon Sponge Company Limited) အနေဖြင့် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် အောက်ပါအချက်များကို လိုက်နာ ဆောင်ရွက် ရမည် -

(က) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အတည်ပြုမိန့်ရရှိသည့်နေ့မှစ၍ ၁၀ (တစ်ဆယ်) နှစ် ခွင့်ပြုသည်။

(ခ) မြေပိုင်ရှင် ဦးဟောင်တင်ချိန်(ခ)ဦးညွန့်စိန်နှင့် ရန်ကုန်စပွန့်ချ် ကုမ္ပဏီလီမိတက် (Yangon Sponge Company Limited) တို့ နှစ်ဦးသဘောတူချုပ်ဆိုထားသည့် မြေငှားစာချုပ်ပါအတိုင်းမြေငှားရမ်းသက်တမ်းကာလမှာကနဦး၅နှစ် ဖြစ်ပါသည်။

(ဂ) အဆိုပြုလုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာ ၀.၈၂၆၄ ဧက (၃၃၄၂.၃၂၅၀၀၄ စတုရန်း မီတာ) ပေါ်တွင် ၁၂၀ ပေ x ၃၀၀ ပေ ရှိ အဆောက်အဦ ၁ လုံး ပါဝင်ပြီး နှစ်စဉ် မြေနှင့် အဆောက်အဦ ငှားရမ်းခမှာ ပထမနှစ်အတွက် ကျပ် ၁၅၁,၂၀၀,၀၀၀ ဖြစ်ပြီး ဒုတိယနှစ်မှ စ၍ ပဥ္စမနှစ်အထိ နှစ်အလိုက် ငှားရမ်းခအား ၈% တိုးမြှင့်မည် ဖြစ်ပါသည်။ ၅ နှစ်ပြည့်ပြီး ဆက်လက် ငှားရမ်းလိုပါက ဆဋ္ဌမနှစ်မှစ၍ ဒသမနှစ်အထိ နှစ်အလိုက် ငှားရမ်းခအား ၄% တိုးမြှင့်မည် ဖြစ်ပါသည်။

(ဃ) ရန်ကုန်စပွန့်ချ် ကုမ္ပဏီလီမိတက် (Yangon Sponge Company Limited) အနေဖြင့် ဤ အတည်ပြုမိန့်အရ ဖော့ရေမြှုပ် ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၇၅၊ ၇၇၊ ၇၈ အရ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ပြဋ္ဌာန်းထားသည့် အချက်များနှင့်အညီ ခံစားခွင့် ပြုနိုင်ရန် လျှောက်ထားနိုင်သည်။

(င) ရန်ကုန်စပွန့်ချ် ကုမ္ပဏီလီမိတက် (Yangon Sponge Company Limited) သည် ဤအတည်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် **ထုတ်လုပ်မှု ရည်မှန်းချက်များကိုအနိမ့်ဆုံးရည်မှန်းချက်များ** အဖြစ်ထားရှိဆောင်ရွက်အကောင်အထည် ဖော်ရမည်။

(စ) ရန်ကုန်စပွန့်ချ် ကုမ္ပဏီလီမိတက် (Yangon Sponge Company Limited) အနေဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၆၅ နှင့်နည်းဥပဒေ အခန်း (၂၀) တို့တွင် ပြဋ္ဌာန်းထားသည့် ရင်းနှီးမြှုပ်နှံသူ၏ တာဝန်ဝတ္တရားများနှင့်အညီ လိုက်နာ ဆောင်ရွက်ရမည်။

(ဆ) ရန်ကုန်စပွန့်ချ် ကုမ္ပဏီလီမိတက် (Yangon Sponge Company Limited) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း ဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသား ပတ်ဝန်းကျင် ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များ တွင် ဖော်ပြပါရှိသည့် လိုက်နာ ဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့် အညီ လိုက်နာ ဆောင်ရွက်ရမည်။

(ဖ) ရန်ကုန်စပွန်ချ် ကုမ္ပဏီလီမိတက် (Yangon Sponge Company Limited) သည် ရင်းနှီးမြှုပ်နှံမှုအား လုပ်ငန်းသက်တမ်းကာလအတွင်း အခြားပုဂ္ဂိုလ်တစ်ဦးဦးသို့ တစ်ဆင့် ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာ လွှဲပြောင်းခြင်းနှင့် လုပ်ငန်း လွှဲပြောင်းခြင်းတို့ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၇၂ နှင့် မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု နည်းဥပဒေ ၁၈၁ အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြရမည်။

(ဗ) ရန်ကုန်စပွန်ချ် ကုမ္ပဏီလီမိတက် (Yangon Sponge Company Limited) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၆ အရ ခွင့်ပြုမိန့် သို့မဟုတ် သက်သာခွင့် ရရှိထားသော ရင်းနှီးမြှုပ်နှံသူသည် နှစ်စဉ် ဘဏ္ဍာရေးနှစ်ကုန်ဆုံးပြီးနောက် သုံးလ အတွင်း သတ်မှတ်ချက်ပါအသေးစိတ်များပါရှိသည့် နှစ်စဉ်အစီရင်ခံစာအား သတ်မှတ် ပုံစံဖြင့် ကုမ္ပဏီ၏ ဝက်(ဘ်)ဆိုဒ် (သို့မဟုတ်) ကော်မရှင်ရုံး၏ ဝက်ဆိုဒ်သို့ တင်ပြရမည်။

(ည) ရန်ကုန်စပွန်ချ် ကုမ္ပဏီလီမိတက် (Yangon Sponge Company Limited) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၇ အရ လုပ်ငန်း ဆောင်ရွက်နေစဉ်အတွင်း လုပ်ငန်းအစီရင်ခံစာကို သုံးလလျှင် တစ်ကြိမ် ကော်မရှင်က သတ်မှတ် တောင်းခံသည့် ပုံစံဖြင့် တင်ပြရမည်။

၃။ ရန်ကုန်စပွန်ချ် ကုမ္ပဏီလီမိတက် (Yangon Sponge Company Limited) သည် အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် လုပ်ငန်းသဘာဝအရဖြစ်စေ၊ အခြားလိုအပ်ချက်အရဖြစ်စေ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့် အဖွဲ့အစည်းများမှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့် ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ သက်ဆိုင်ရာဌာနနှင့် မြေငှားရမ်းခြင်း စာချုပ်ချုပ်ဆိုသည်ဖြစ်စေ၊ မှတ်ပုံတင်ရန် လိုအပ်လျှင် ဖြစ်စေသက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်များနှင့် အညီဆောင်ရွက်ပြီး မိတ္တူ(၅)စုံစီအား ကော်မရှင်သို့ ပေးပို့ရမည်။

24-7.17

(ကျော်ဝင်း)

ဥက္ကဋ္ဌ

**ဖြန့်ဝေခြင်း**

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

ပြည်ထဲရေးဝန်ကြီးဌာန

သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန
စက်မှုဝန်ကြီးဌာန
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန
ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများမော်ကွန်းတိုက်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန
အုပ်ချုပ်မှုဒါရိုက်တာ၊ ရန်ကုန်စပွန့်ချ် ကုမ္ပဏီလီမိတက် (Yangon Sponge Company Limited)